# "GOLDEN THEPARERG COMPANY LIMITED"

## FOREIGN EXCHANGE AND LOCAL SAVINGS

**Currency in USD Thousand**

| | Unit | Year 24 | Year 25 | Year 26 | Year 27 | Year 28 | Year 29 | Year 30 |
|---|---|---|---|---|---|---|---|---|
| **Foreign Currency Earnings** | | | | | | | | |
| Income in USD | USD 000 | 7,724.16 | 7,724.16 | 7,724.16 | 7,724.16 | 7,724.16 | 7,724.16 | 7,724.16 |
| | | | | | | | | |
| Total Income in USD | USD 000 | **7,724.16** | **7,724.16** | **7,724.16** | **7,724.16** | **7,724.16** | **7,724.16** | **7,724.16** |
| **Foreign Exchange Savings** | | | | | | | | |
| **Foreign Currency Earnings** | | | | | | | | |
| Expenditures in USD | USD 000 | 3,191.26 | 3,191.26 | 3,191.26 | 3,191.26 | 3,191.26 | 3,191.26 | 3,191.26 |
| Taxes: Income Tax | USD 000 | 1,126.44 | 1,126.44 | 1,126.44 | 1,126.44 | 1,126.44 | 1,126.44 | 1,126.44 |
| | | | | | | | | |
| **Total Expenditure in USD** | USD 000 | **4,317.71** | **4,317.71** | **4,317.71** | **4,317.71** | **4,317.71** | **4,317.71** | **4,317.71** |
| **Net Saving in USD** | USD 000 | **3,406.45** | **3,406.45** | **3,406.45** | **3,406.45** | **3,406.45** | **3,406.45** | **3,406.45** |
| **Accumulated Foreign Currency Net Savings** | **USD 000** | **67,333.16** | **70,739.61** | **74,146.06** | **77,552.51** | **80,958.96** | **84,365.41** | **87,771.86** |
| | | | | | | | | |

"နိုင်ငံတော်သို့ထည့်ဝင်မည့်ဘဏ္ဍာရေးအကျိုးအမြတ်ဇယား"

**Currency in USD Thousand**

| Sr No | Year | Income Tax on CMP (25%) | Personal Salaries Income Tax (Local) (25%) | Personal Salaries Income Tax (Foreign) (Est) (25%) | Total |
|---|---|---|---|---|---|
| 1 | 2014 - 2015 | - | 498.53 | 78.47 | **577.00** |
| 2 | 2015 - 2016 | - | 523.46 | 47.49 | **570.95** |
| 3 | 2016 - 2017 | - | 549.63 | 41.73 | **591.36** |
| 4 | 2017 - 2018 | - | 549.63 | 41.73 | **591.36** |
| 5 | 2018 - 2019 | - | 549.63 | 41.73 | **591.36** |
| 6 | 2019 - 2020 | 1,019.73 | 549.63 | 41.73 | **1,611.08** |
| 7 | 2020 - 2021 | 1,019.73 | 549.63 | 41.73 | **1,611.08** |
| **8** | 2021 - 2022 | 1,019.73 | 549.63 | 41.73 | **1,611.08** |
| **9** | 2022 - 2023 | 1,026.72 | 549.63 | 41.73 | **1,618.08** |
| **10** | 2023 - 2024 | 1,026.72 | 549.63 | 41.73 | **1,618.08** |
| **11** | 2024 - 2025 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **12** | 2025 - 2026 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **13** | 2026 - 2027 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **14** | 2027 - 2028 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **15** | 2028 - 2029 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **16** | 2029 - 2030 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **17** | 2030 - 2031 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **18** | 2031 - 2032 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **19** | 2032 - 2033 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **20** | 2033 - 2034 | 1,125.60 | 549.63 | 41.73 | **1,716.96** |
| **21** | 2034 - 2035 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **22** | 2035 - 2036 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **23** | 2036 - 2037 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **24** | 2037 - 2038 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **25** | 2038 - 2039 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **26** | 2039 - 2040 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **27** | 2040 - 2041 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **28** | 2041 - 2042 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **29** | 2042 - 2043 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **30** | 2043 - 2044 | 1,126.44 | 549.63 | 41.73 | **1,717.80** |
| **Total** | | | | | **45,338.99** |

Note : During the course of project life for thirty years, accumulated contribution under tax to Union Government amounting to USD in Thousand (45,338.99).

# THE USE OF RAW MATERIAL PER UNIT

## Consumption Sheet

### (1) Pants

| No. | Description | Quatity | Unit |
|---|---|---|---|
| 1 | Fabric | 1.60 | yd |
| 2 | Fabric Pocket | 0.25 | yd |
| 3 | Velene | 0.04 | yd |
| 4 | Thread | 150.00 | meters |
| 5 | Zipper | 1.00 | piece |
| 6 | Labels | 3.00 | piece |
| 7 | Patch | 1.00 | piece |
| 8 | Button | 1.00 | piece |
| 9 | Rivet | 4.00 | piece |
| | | | |
| | | | |

### (2) Shirts

| No. | Description | Quatity | Unit |
|---|---|---|---|
| 1 | Fabric | 1.80 | yd |
| 2 | Velene | 0.04 | yd |
| 3 | Thread | 150.00 | meters |
| 4 | Labels | 3.00 | piece |
| 5 | Buttons | 12.00 | piece |
| | | | |

မှတ်ချက် ။ ။ အဆိုပြုလွှာတွင်တင်ပြထားသော Shirt အင်္ကျီတစ်ထည်အတွက်ချုပ်လုပ်ရာတွင် လိုအပ်သော အထက်ပါ Norm တွင်အသုံးပြုရန် ဖော်ပြထားသောအဓိကကုန်ကြမ်း ဖြစ်သည့် Fabric အား 1.8 yd ဟု ဖော်ပြထားရခြင်းမှာ XXL ဆိုဒ်ကြီးများ ချုပ်လုပ်ရန်အတွက်ဖြစ်ပါသည်။

# THE USE OF RAW MATERIAL PER UNIT

## Consumption Sheet

### Washing

| No. | Description | Quatity | Unit |
|---|---|---|---|
| 1 | Softener | 0.0339 | kg |
| 2 | Enzyme | 0.0039 | kg |
| 3 | Desizing agent | 0.0012 | kg |
| 4 | Soap | 0.0012 | kg |
| 5 | Anti Back Stain | 0.0040 | kg |
| 6 | Chlorine | 0.0445 | kg |
| 7 | Metabisulfite | 0.0082 | kg |
| 8 | Hypo | 0.0082 | kg |
| | | | |

# <u>လုပ်ငန်းသဘောသဘာဝ</u>

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ် (တောင်ပိုင်းမြို့နယ်)၊ မြေဧကစုစုပေါင်း (၅.၄၇၉)ဧက၊ (၂၂၁၇၂.၇၅)စတုရန်းမီတာ ရှိ (Garment Factory) စက်ရုံတွင်"စီအမ်ပီ"(CMP)အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ်အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ကျွန်တော်တို့ "Golden Theparerg Co., Ltd" သည် (Pants , Shirts) အမျိုးမျိုးကို ချုပ်လုပ်ပြီး ပြည်ပသို့တင်ပို့ ရောင်းချမည်ဖြစ်ပါသည်။ ပြည်ပသို့တင်ပို့ရောင်းချရာတွင် နိုင်ငံတကာသတ်မှတ် ဈေးနှုန်းထက်မနိမ့်စေဘဲတင်ပို့ ရောင်းချဖြန့်ဖြူးပေးမည်ဖြစ်သည့်အပြင် နိုင်ငံတော်အတွက် ရသင့်ရထိုက်သော အခွန်ဘဏ္ဍာငွေများလည်း ရရှိမည်ဖြစ်ပါသည်။

ထို့ပြင်ပြည်တွင်းတွင် ထုတ်လုပ်ခြင်းအားဖြင့် မြန်မာနိုင်ငံသားများအတွက် အလုပ်အကိုင် အခွင့်အလမ်းများ ရရှိစေခြင်း၊ စက်မှုနည်းပညာရပ်များ တိုးပွားလာစေခြင်း၊ နိုင်ငံသားများစီးပွားရေး ဖွံ့ဖြိုးတိုးတက်စေခြင်းများလည်း အကျိုး ကျေးဇူးရရှိလာမည်ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

Chukiat

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

## လျှပ်စစ်ဓါတ်အားရယူသုံးစွဲမည့်အစီအစဉ်

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်းမြို့နယ်)၊မြေဧကစုစုပေါင်း(၅. ၄၇၉)ဧက၊ (၂၂၀၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ (Garment Factory) စက်ရုံတွင်"စီအမ်ပီ"(CMP)အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ်အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ကျွန်တော်တို့ စက်ရုံတွင် စက်ရုံအဆောက်အဦး၊ ဝန်ထမ်းများထမင်းစားဆောင်၊ ဝန်ထမ်းနှင့် အလုပ်သမားများ နေထိုင်ရန် အဆောက်အဦးတို့ပါရှိပါသည်။ ကျွန်တော်တို့ စက်ရုံသည် (Pants , Shirts) အမျိုးမျိုးကို ထုတ်လုပ်ရာတွင် ပုံမှန်လျှပ်စစ်ဓါတ်အားများ သုံးစွဲခြင်းအပြင် လိုအပ်ပါက KVA Transformer ကို ပါအားဖြည့်၍ သုံးစွဲမည်ဖြစ်ပါကြောင်းလေးစားစွာတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

## အဆောက်အဦးငှားရမ်းဆောင်ရွက်ခြင်းအတွက် ရှင်းလင်းတင်ပြဝန်ခံကတိပြုခြင်း

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ် (တောင်ပိုင်းမြို့နယ်)၊ မြေဧကစုစုပေါင်း (၅. ၄၇၉)ဧက၊ (၂၂၁၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ အဆောက်အဦး နှင့်မြေနေရာအားအထည်ချုပ်လုပ်ငန်းလုပ်ကိုင်ရန်အတွက်အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊စက်မှုဝန်ကြီးဌာန ၏ မြေနေရာတွင် ငှားရမ်းလုပ်ကိုင်ခြင်းဖြစ်ကြောင်း ဝန်ခံကတိပြု ရှင်းလင်းတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# မီးဘေးကြိုတင်ကာကွယ်ရေးစီမံချက်

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှု ဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်းမြို့နယ်)၊မြေဧကစုစုပေါင်း(၅. ၄၇၉)ဧက၊ (၂၂၀၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ (Garment Factory) စက်ရုံတွင်"စီအမ်ပီ"(CMP)အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ် အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် (Pants , Shirts) များကိုထုတ်လုပ်ရာ တွင် မီးဘေးအန္တရာယ် ကြိုတင်ကာကွယ်မှုအနေဖြင့်ရေလှောင်ကန်ကိုတည်ဆောက်ထားရှိမည်ဖြစ်ပါသည်။ စက်ရုံအဆောက်အအုံမှာလည်း မီးလောင်မှုမှကာကွယ်ရန် သံကူကွန်ကရက် **(RC) Steel Structure** တို့ဖြင့် တည်ဆောက်မည်ဖြစ်ပြီး ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့်ထားရှိထားပါသည်။ စက်ရုံရှိနံရံများတွင် မီးသတ် ဘူးများ ချိတ်ဆွဲထားရှိ မည်ဖြစ်ပါသည်။ ထို့ပြင် စက်ရုံတွင်မီးဘေးအန္တရာယ် အတွက်စည်းကမ်းချက်များ ချမှတ်ထားပြီး၊ ယင်းတို့ကို ဝန်ထမ်းများတိကျစွာ လိုက်နာဆောင်ရွက်ရန်လည်းစီမံထားရှိပါသည်။ ဝန်ထမ်း များကိုလည်း မီးဘေးအရေးပေါ် ကာကွယ်နိုင်ရန်မီးသတ်နည်းပညာများလေ့ကျင့်သင်ကြားပေးမည်ဖြစ်ပါသည်။ စက်ရုံအတွင်းနှင့်အနီးပတ်ဝန်းကျင်တွင်ဆေးလိပ်သောက်ခြင်းကိုတားမြစ်ပြဌာန်းထားသောဥပဒေများနှင့် အညီ တင်းကြပ်စွာ တားမြစ်ထားရှိခြင်းနှင့် လျှပ်စစ်နှင့်ပတ်သက်သည့်အန္တရာယ်များ မဖြစ် ပေါ်အောင်လည်း ဆောင်ရွက်ထားရှိမည် ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# အလုပ်အကိုင်သစ်များပေါ်ပေါက်လာမည့်အခြေအနေ

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်းမြို့နယ်)၊ မြေဧကစုစုပေါင်း (၅. ၄၇၉)ဧက၊ (၂၂၀၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ (Garment Factory) စက်ရုံတွင်"စီအမ်ပီ"(CMP)အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ် အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ထိုသို့ အထည်ချုပ်စက်ရုံမှထွက်ရှိသော (Pants , Shirts) အမျိုးမျိုးကို ပြည်ပသို့တင်ပို့ရောင်းချသွားမည် ဖြစ်ပါသည်။ စက်ရုံအတွက် လိုအပ်သောဝန်ထမ်းများကိုပြည်တွင်း ပြည်ပရှိ အတတ်ပညာရှင်များကို အသုံးပြုထုတ်လုပ်သွားမည်ဖြစ်ပါသည်။ ထို့ကြောင့် စက်ရုံလည်ပတ်ခွင့်ရရှိပါက မြန်မာနိုင်ငံသား ဝန်ထမ်းများ(၁၅၃၂)ဦးခန့် အလုပ်အကိုင်များ ရရှိကြမည်ဖြစ်ပါသည်။ နောင်အချိန်တွင် လုပ်ငန်းတိုးချဲ့ဆောင်ရွက်သွားမည်ဖြစ်ပြီး ထိုသို့လုပ်ငန်းတိုးချဲ့ ဆောင်ရွက်ပါက မြန်မာနိုင်ငံ သားဝန်ထမ်းများပိုမို၍ အလုပ်အကိုင် အခွင့်အလမ်းများ ရရှိကြပြီး တဘက်တလမ်းမှလည်း နိုင်ငံတော်၏ ဘဏ္ဍာငွေတိုးတက်ရေးကို ဝန်ထမ်းလစာများအခွန်ထမ်း ဆောင်ခြင်းဖြင့်လည်းကောင်း၊ (CMP)စနစ်ဖြင့်လုပ်ငန်းမှဝင်ငွေများ ထမ်းဆောင်ခြင်း ဖြင့်လည်းကောင်း ဝင်ငွေခွန်များတိုးတက်ရရှိနိုင်ကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# လုပ်ငန်းခွင်သာယာရေးနှင့်ဝန်ထမ်းသက်သာချောင်ချိရေးစီမံချက်

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ် (တောင်ပိုင်းမြို့နယ်)၊မြေဧကစုစုပေါင်း(၅. ၄၇၉)ဧက၊ (၂၂၁၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ (Garment Factory) စက်ရုံတွင်"စီအမ်ပီ" (CMP) အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ်အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ထိုသို့ အထည်ချုပ်စက်ရုံတွင် ပြည်တွင်းပြည်ပရှိအတတ်ပညာရှင်များ၊ စက်ရုံဝန်ထမ်းများ၊ စက်ရုံအလုပ်သမား များခန့်၍ (Pants , Shirts) အမျိုးမျိုးကို ချုပ်လုပ်မည်ဖြစ်ပြီး ထိုဝန်ထမ်းများ လုပ်ငန်းခွင်သာယာရေးအနေနှင့် စက်ရုံနှစ်ပတ်လည်နေ့နှင့် လွတ်လပ်ရေး နေ့များတွင် အားကစားပြိုင်ပွဲများ၊ ပျော်ပွဲရွှင်ပွဲများ ပြုလုပ်ပေးခြင်း၊ ပညာဗဟုသုတများ တိုးတက်စေရန် သင်တန်းများပေးခြင်း၊ အခါအားလျော်စွာထူးချွန်ဝန်ထမ်းများ၊ ခွင့်ရက် မယူဘဲအလုပ်မှန်သူများကိုဆုချီးမြှင့်ပေးခြင်းများ စသည့်တို့ကို ပြုလုပ်ပေးသွားမည်ဖြစ်ကြောင်း လေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ထို့ပြင်ဝန်ထမ်းများအလုပ်ခွင်လုံခြုံရေးကို ကောင်းစွာရရှိနိုင်ရန်ဆောင်ရွက်ထားပြီး၊ ဝန်ထမ်းများနာမကျန်း ဖြစ်ပါကအရေးပေါ်ကုသနိုင်ရန်အတွက်ဆေးနှင့်ဆေးပစ္စည်းအထောက်အကူပြုပစ္စည်းများ ကိုစက်ရုံတွင် ထားရှိ မည့်အပြင်နိုင်ငံတော်၏ဝန်ထမ်းလူမှုဖူလုံရေးကြေးများကိုလည်းပေးသွင်းပြီး ဝန်ထမ်း လူမှုဖူလုံရေးအတွက် အပြည့်အဝဆောင်ရွက်ပေးသွားမည်ဖြစ်ကြောင်းလေးစားစွာဖြင့် တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# <u>ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့်သန့်ရှင်းသာယာရေးစီမံချက်အစီအစဉ်</u>

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ် (တောင်ပိုင်းမြို့နယ်)၊ မြေဧကစုစုပေါင်း (၅.၄၇၉)ဧက၊ (၂၂၁၇၂.၇၅)စတုရန်းမီတာပေါ်ရှိ (Garment Factory) စက်ရုံတွင်"စီအမ်ပီ"(CMP)အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ် အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် (Pants , Shirts) အမျိုးမျိုးကိုချုပ်လုပ်ရာတွင်စက်ရုံ၏ ပတ်ဝန်းကျင် သန့်ရှင်းမှုရှိစေရန်အတွက် ရေစီးမြောင်းများကို စနစ်တကျ ဖေါက်လုပ်ထားခြင်း၊ မီးဘေးအန္တရာယ် မဖြစ်စေရန် ကြိုတင်ကာကွယ်ရေးစီမံချက်များ ချမှတ်၍ ရေပုံး၊ မီးကပ်၊ သဲအိတ်၊ မီးသတ်ဘူးများကို အဆင်သင့် ထားရှိခြင်း၊ အမှိုက်များကိုစနစ်တကျစွန့်ပစ်နိုင်ရန် အမှိုက်ကန်များထားရှိပေးခြင်း၊ အစရှိသည် တို့အပြင် ကျွန်တော်တို့၏စက်ရုံသည်တွင် တည်ရှိသည့်အတွက် သဘာဝပတ်ဝန်းကျင်ကိုလည်း မထိခိုက်စေနိုင်ပါကြောင်း လေးစားစွာတင်ပြ အပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# လစာခွန်ပေးဆောင်မည်ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

ကျွန်တော်တို့၏ “ Golden Theparerg Co., Ltd ” သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ် (တောင်ပိုင်းမြို့နယ်)၊ မြေဧကစုစုပေါင်း (၅. ၄၇၉)ဧက၊(၂၂၁၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ (Garment Factory) စက်ရုံတွင်“စီအမ်ပီ”(CMP)အခစားစနစ်ဖြင့် (Pants , Shirts) အထည်ချုပ်အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ကျွန်တော်တို့၏ကုမ္ပဏီအနေဖြင့်(Pants , Shirts) အမျိုးမျိုးကို ချုပ်လုပ်ရာတွင်ပြည်တွင်း၊ ပြည်ပရှိအတတ်ပညာရှင်များ၊ ရုံးဝန်ထမ်းများ၊ စက်ရုံဝန်ထမ်းများ၊ စက်ရုံအလုပ်သမားများခန့်၍ (Pants , Shirts) အမျိုးမျိုးကို ချုပ်လုပ် မည်ဖြစ်ပြီး အဆိုပါဝန်ထမ်းများ၏လစာနှင့် ပတ်သက်၍ဝန်ထမ်းတစ်ဦးလျှင်တစ်နှစ်လစာငွေကျပ် ၂,၀၀၀,၀၀၀/- (ကျပ်- သိန်းနှစ်ဆယ် တိတိ) ထက်ကျော်လွန်ပါက ကျသင့်သော ဝင်ငွေခွန်ကို ဝင်ငွေခွန်ဥပဒေနှင့်အညီ ပေးဆောင်မည် ဖြစ်ပါကြောင်း ဝန်ခံကတိပြု တင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် သန့်ရှင်းသာယာရေးစီမံချက်များအားလိုက်နာမည် ဖြစ်ကြောင်းဝန်ခံကတိပြုခြင်း

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း၊ (၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်းမြို့နယ်)၊ မြေကေစုစုပေါင်း(၅. ၄၇၉)ဧက၊ (၂၂၀၇၂. ၇၅)စတုရန်းမီတာ ပေါ်ရှိ (Garment Factory)စက်ရုံတွင်"စီအမ်ပီ"(CMP)အခစားစနစ်ဖြင့်(Pants , Shirts) အထည်အမျိုးမျိုးကို ချုပ်လုပ်မည် ဖြစ်ပါသည်။

ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရာတွင် ပတ်ဝန်းကျင်ထိန်းသိမ်းရေးနှင့် ပတ်သက်၍ အောက်ဖော်ပြပါ အတိုင်းလိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းဝန်ခံကတိပြုပါသည်။

(၁) အထည်ချုပ်လုပ်ငန်းမှ ထွက်ရှိလာသော ဖြတ်စများအားအိတ်များဖြင့်သေချာစွာထုတ်ပိုး၍စွန့်ပစ်မည်ဖြစ်ပြီးအဆင့်မြင့်နည်းပညာများဖြင့်စက်အသစ်များကို သုံးစွဲခြင်းဖြင့် ပတ်ဝန်းကျင်ကိုထိခိုက်မှု အနည်းဆုံး ဖြစ်ရန်ဆောင်ရွက်မည်ဖြစ်ပါသည်။

(၂) စက်ရုံမှ ထွက်ရှိလာမည့်စွန့်ပစ်အရည်နှင့်ပစ္စည်းများအားစက်မှုဝန်ကြီးဌာနမှပြဋ္ဌာန်းထားသော စံချိန်၊ စံညွှန်းများအရ သန့်စင်ပြီးမှစွန့်ပစ်မည်ဖြစ်ပြီးစွန့်ပစ်အရည်/ပစ္စည်းများအား စီမံခန့်ခွဲမှု အစီအမံနှင့် စီမံချက်များကို ရေးဆွဲထားမည်ဖြစ်ပါသည်။

(၃) အဆိုပြုစီမံကိန်းလုပ်ငန်းကြောင့်ပတ်ဝန်းကျင်ထိခိုက်မှုနှင့်လူမှုရေး ထိခိုက်မှု အနည်းဆုံးဖြစ်စေရေးအတွက်ပတ်ဝန်းကျင်ဆိုင်ရာကနဦးလေ့လာခြင်းပြုလုပ်၍ ပတ်ဝန်းကျင်ဆိုင်ရာစီမံခန့်ခွဲမှု စီမံချက်ရေးဆွဲပြုစုပြီး စီမံချက်ပါအတိုင်းအကောင်အထည်ဖော်ဆောင်ရွက်မည်ဖြစ်ပါသည်။

(၄) ပတ်ဝန်းကျင်ထိန်းသိမ်းရေးဥပဒေပြဋ္ဌာန်းချက်များနှင့် ဆက်လက်ထုတ်ပြန်ပြဋ္ဌာန်းမည့်ပတ်ဝန်းကျင်ထိန်းသိမ်းရေးနည်းဥပဒေများအားလိုက်နာမည်ဖြစ်ပြီး အကောင်အထည်ဖော်ဆောင်ရွက်သွားမည် ဖြစ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

# " Corporate Social Responsibility Program "

ကျွန်တော်တို့၏ " Golden Theparerg Co., Ltd " သည် မြန်မာနိုင်ငံ၊ နိုင်ငံခြားရင်းနှီးမြှုပ်နှံမှုဥပဒေအရ၊ ရန်ကုန်တိုင်းဒေသကြီးအတွင်း၊ မြေကွက်အမှတ်-၄၇၆၊ မိုးကုတ်လမ်း(၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ် (တောင်ပိုင်းမြို့နယ်)၊ မြေဧကစုစုပေါင်း (၅. ၄၇၉)ဧက၊ (၂၂၁၇၂. ၇၅)စတုရန်းမီတာပေါ်ရှိ အဆောက်အဦးအား ငှားရမ်းပြီး CMP စနစ်ဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက် မည်ဖြစ်ပါသည်။

ထိုသို့ ကျွန်တော်တို့၏ ကုမ္ပဏီအနေဖြင့် အထည်ချုပ်လုပ်ငန်းဆောင်ရွက်ရာတွင် အောက်ဖော်ပြပါအတိုင်း " Corporate Social Responsibility Program " အစီအစဉ်များကိုဆောင်ရွက်ပေးသွားမည်ဖြစ်ကြောင်း ဝန်ခံကတိပြုပါသည်။

(၁) လုပ်ငန်းမှရရှိမည့်အမြတ်ငွေများမှ ၂%ကိုစက်ရုံရှိဝန်ထမ်းများ/အလုပ်သမားများ၏လူမှုရေးအထောက်အကူပြုလုပ်ငန်းများတွင်အသုံးပြုသွားမည် ဖြစ်ပါသည်။

(၂) ဝန်ထမ်း/အလုပ်သမားများ၏အနာဂတ်အတွက် အကျိုးခံစားခွင့်များရရှိရန် နှင့် ထောက်ပံ့ကြေးများ ပေးနိုင်ရန် သက်ဆိုင်ရာမြို့နယ်လူမှုဖူလုံရေးရုံးသို့မှတ်ပုံတင်ပြီးထည့်ဝင်ကြေးကိုလည်း ဆက်လက်ပေးသွင်းသွားမည်ဖြစ်ပါသည်။

(၃) ကုမ္ပဏီအနေဖြင့်အမြတ်အစွန်းများရရှိလာသောအခါ ကုမ္ပဏီ၏ အစုရှယ်ယာရှင်များအတွက်သာမဟုတ်ဘဲ၊ အခြားသောဆက်စပ်နေသည့်ပုဂ္ဂိုလ်၊ အဖွဲ့အစည်း၊ နိုင်ငံတော်သို့လည်းအခါအားလျော်စွာထောက်ပံ့လှူဒါန်းသွားရန်လည်းဆန္ဒရှိပါသည်။

(၄) ထို့အပြင်နိုင်ငံတော်၏ လူမှုရေး၊ ကျန်းမာရေး၊ ပညာရေးစသောအဖွဲ့အစည်းများတွင်လည်းလိုအပ်လျှင်လိုအပ်သလိုကူညီဆောင်ရွက်သွားရန်လည်းရှိပါသည်။

(၅) အခါအားလျော်စွာဝန်ထမ်း/အလုပ်သမားများ၏အကျိုးစီးပွားအတွက် နိုင်ငံတော်အစိုးရမှ ပြဌာန်းထားသောဥပဒေများ ၊ နည်းဥပဒေများ၊ လုပ်ထုံးလုပ်နည်းများ၊ စည်းကမ်းဥပဒေများ၊ အမိန့်များ၊ ညွှန်ကြားချက်များနှင့် စည်းမျဉ်းစည်းကမ်းများကိုလည်း လိုက်နာဆောင်ရွက်မည်ဖြစ်ကြောင်းထပ်ဆင့်ဝန်ခံကတိပြုတင်ပြအပ်ပါသည်။

ရိုသေလေးစားစွာဖြင့်
လျှောက်ထားသူ

( Mr. Chukiat Hutasuwan )
Proposed Director
Golden Theparerg Co., Ltd

မိတ္တူ။ ။ရုံးလက်ခံ။

GOLDEN MYINT
MANUFACTURING CO., LTD.
Office : # 40/1.C, Myasabal Street, Parami Yeikthar, 9th Quarter, Mayangone Township, Yangon, Myanmar.
: Tel:01-667079, 651528, Fax:01-651528, E-mail:goldenmyint@myanmar.com.mm
Factory : # 215, 216, 217, 218, Sitway Street, No. 1 South Dagon Industrial Zone,
: South Dagon Township, Yangon, Myanmar.
Tel : 95-1-590556, 590557, 95-9-8620712, Fax : 95-1-590557

သို့

ဥက္ကဋ္ဌ

မြန်မာနိုင်ငံရင်းနှီးမြှုပ်နှံမှုကော်မရှင်။

နေ့စွဲ။ ။ ၂၀၁၄ခုနှစ် အောက်တိုဘာလ (၂၁)ရက်။

အကြောင်းအရာ။ ။ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၄)အကြီးစားစက်ရုံ(ဒဂုံ) ကြီးကြပ်မှုအောက်ရှိ ဓာတ်ခဲအလုပ်ရုံအား နှစ်ရှည်ငှားရမ်းဆောင်ရွက်ခွင့်ပြုခြင်းကို ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ အကြောင်းကြားပြီးကြောင်း တင်ပြခြင်း။

၁။ ကျွန်တော်၏ ရွှေမြင့်ထုတ်လုပ်မှုလုပ်ငန်း (Golden Myint Manufacturing Co., Ltd) သည် စက်မှုဝန်ကြီးဌာန၊ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း အမှတ်(၂၄)အကြီးစားစက်ရုံ(ဒဂုံ) ကြီးကြပ်မှုအောက်ရှိ ဓာတ်ခဲအလုပ်ရုံအား နှစ်ရှည်ငှားရမ်းဆောင်ရွက်ရန်ခွင့်ပြုချက် ရရှိခဲ့ပါသည်။

၂။ နှစ်ရှည်ငှားရမ်းခြင်းစာချုပ်ကို ၂၀၁၄ခုနှစ် အောက်တိုဘာလ (၁)ရက်နေ့တွင် နေပြည်တော်ရုံးအမှတ် (၄၁) ၌စာချုပ်ချုပ်ဆိုခဲ့ပြီးဖြစ်ပါသည်။

၃။ အဆိုပါစာချုပ် မိတ္တူကိုလည်း ပြည်ထောင်စုရှေ့နေချုပ်ရုံးသို့ စက်မှုဝန်ကြီးဌာန အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း မှ -

စာအမှတ် - ၁၅၀၃/၁/စမ(၂၀၁၄)/၉၇၅

ရက်စွဲ - ၂၀၁၄ခုနှစ် အောက်တိုဘာလ ၃ ရက်ဖြင့် တင်ပြမှတ်တမ်းတင်ပြီးဖြစ်ကြောင်း လေးစားစွာတင်ပြအပ်ပါသည်။

စက်မှုဝန်ကြီးဌာန၏စာမိတ္တူကို ပူးတွဲတင်ပြအပ်ပါသည်။

# GOLDEN MYINT MANUFACTURING CO., LTD.

Office : # 40/1.C, Myasabal Street, Parami Yeikthar, 9th Quarter, Mayangone Township, Yangon, Myanmar.
: Tel:01-667079, 651528, Fax:01-651528, E-mail:goldenmyint@myanmar.com.mm
Factory : # 215, 216, 217, 218, Sitway Street, No. 1 South Dagon Industrial Zone,
: South Dagon Township, Yangon, Myanmar.
Tel : 95-1-590556, 590557, 95-9-8620712, Fax : 95-1-590557

မိတ္တူကို - (၁) ညွှန်ကြားရေးမှူးချုပ် (M.I.C)

(၂) M.D စက်မှုဝန်ကြီးဌာန အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

(၃) ညွှန်ကြားရေးမှူး (ပစ္စည်းစီမံရေး)

(၄) ရုံးလက်ခံ

GOLDEN MYINT MANUFACTURING CO., LTD. ★ YANGON, MYANMAR ★

လေးစားစွာဖြင့်

အောင်မင်း (Managing Director)

Golden Myint Manufacturing Co., Ltd

U AUNG MIN
MANAGING DIRECTOR
GOLDEN MYINT MANUFACTURING CO., LTD.

စက်မှုဝန်ကြီးဌာန
အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း
No(2) Heavy Industries Enterprise

စာအမှတ်၊ ၁၅၀၃/၁/စမ(၂၀၁၄)/ ၉၇၅
ရက်စွဲ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၃ ရက်

သို့

စက်မှုဝန်ကြီးဌာန

အကြောင်းအရာ။ **နှစ်ရှည်ငှားရမ်းစာချုပ်ချုပ်ဆိုပြီးစီးကြောင်း တင်ပြခြင်း**

ရည်ညွှန်းချက် ။ (၁) စက်မှုဝန်ကြီးဌာန၏၅-၈-၂၀၁၄ ရက်စွဲပါစာအမှတ်၊ ၂၃-စမ(၂)၂၀၁၄-၂၀၁၅ (၂၀၇၄)

(၂) စက်မှုဝန်ကြီးဌာန၏၁၅-၉-၂၀၁၄ရက်စွဲပါစာအမှတ်၊ ၃၇-စမ(၁)၂၀၁၄-၂၀၁၅ (၃၉၇၄)

၁။ အထက်ရည်ညွှန်းချက်များအရ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ အမှတ်(၂၄) အကြီးစားစက်ရုံ(ဒဂုံ)ကြီးကြပ်မှုအောက်ရှိ ဓာတ်ခဲအလုပ်ရုံအား Golden Myint Manufacturing Co.,Ltd. သို့ ၂၅+၅+၅ နှစ်ဖြင့် ငှားရမ်းဆောင်ရွက်ခွင့်ပြုခဲ့ပါသည်။

၂။ သို့ဖြစ်ပါ၍ ၂-၁၀-၂၀၁၄ ရက်နေ့၊ မွန်းလွဲ ၂:၀၀ နာရီအချိန်တွင် ရုံးအမှတ်(၄၁)၊ အစည်းအဝေးခန်းမ၌ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်းနှင့် Golden Myint Manufacturing Co.,Ltd. တို့သည် ဓာတ်ခဲအလုပ်ရုံ နှစ်ရှည်ငှားရမ်းခြင်း စာချုပ်ချုပ်ဆို ပြီးစီးကြောင်းကို သိရှိနိုင်ပါရန်နှင့် လိုအပ်သည်များကို ဆက်လက်အရေးယူဆောင်ရွက်နိုင်ပါရန် စာချုပ်မိတ္တူ ၁ စုံစီ ပူးတွဲလျက်ပေးပို့အစီရင်ခံ တင်ပြအပ်ပါသည်။

မြင့်နိုင်
ဦးဆောင်ညွှန်ကြားရေးမှူး

လိပ်စာ - အဆောက်အဦအမှတ်(၃၀)၊ ဇေယျာသီရိလမ်း၊
နေပြည်တော်။

တယ်လီဖုန်း - ၀၆၇-၄၀၅၁၅၁
၀၆၇-၄၀၅၁၆၁
ဖက်စ် - ၀၆၇-၄၀၅၀၅၃
[illegible] internal [illegible]

မိတ္တူကို

✓ ပြည်ထောင်စုရှေ့နေချုပ်ရုံး(မှတ်တမ်းတင်နိုင်ရန် စာချုပ်မိတ္တူ ၃ စုံ ပူးတွဲပေးပို့အပ်ပါသည်)

စက်မှုညွှန်ကြားရေးဦးစီးဌာန၊ ဥပဒေရေးရာဌာန

ဘဏ္ဍာရေးဌာန } လုပ်ငန်း(ရုံးချုပ်)
အုပ်ချုပ်ရေးဌာန }

အမှတ်(၂၄)အကြီးစားစက်ရုံ(ဒဂုံ)

✓ Golden Myint Manufacturing Co.,Ltd.

ရုံးလက်ခံ

မျှောစာတွဲ

စက်မှုဝန်ကြီးဌာန

# အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

နှင့်

# Golden Myint Manufacturing Co.,Ltd.

တို့

ချုပ်ဆိုသော

# အမှတ်(၂၄)အကြီးစားစက်ရုံ(ဒဂုံ)ကြီးကြပ်မှုအောက်ရှိ
# မြေနှင့် ဓာတ်ခဲအလုပ်ရုံအဆောက်အအုံများအား
# အငှားချထားခြင်းဆိုင်ရာ သဘောတူစာချုပ်

ရက်စွဲ ၊ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁ ရက်

နေရာ ၊ နေပြည်တော်။

ကန့်သတ်

# စက်မှုဝန်ကြီးဌာန

## အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း

နှင့်

## Golden Myint Manufacturing Co.,Ltd.

တို့

ချုပ်ဆိုသော

အမှတ်(၂၄)အကြီးစားစက်ရုံ(ဒဂုံ)ကြီးကြပ်မှုအောက်ရှိ

မြေနှင့်ဓာတ်ခဲအလုပ်ရုံအဆောက်အအုံများအား

အငှားချထားခြင်းဆိုင်ရာ

သဘောတူစာချုပ်

ရက်စွဲ။ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁ ရက်

နေရာ။ နေပြည်တော်

ကန့်သတ်







**စက်မှုဝန်ကြီးဌာန**

**အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း**

**နှင့်**

**Golden Myint Manufacturing Co.,Ltd. တို့ ချုပ်ဆိုသော**

**အမှတ်(၂၄)အကြီးစားစက်ရုံ(ဒဂုံ)၊ တောင်ဒဂုံစက်မှုဇုန်(၁)ရှိ**

**မြေနှင့်ဓာတ်ခဲအလုပ်ရုံအဆောက်အအုံများအား**

**နှစ်ရှည်ငှားရမ်းသည့် သဘောတူစာချုပ်**

ဤစာချုပ်ကို နေပြည်တော်တွင် ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့၌ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဦးမြင့်နိုင်ကိုယ်စားပြုသော အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ စက်မှုဝန်ကြီးဌာန၊ (နောင်တွင် **"အငှားချထားသူ"** ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအားဆက်ခံသူနှင့် ဥပဒေအရ လွှဲအပ်ခြင်းခံရသူများပါဝင်သည်)က တစ်ဖက်

နှင့်

ဦးအောင်မင်း (နိုင်ငံသားစိစစ်ရေးကတ်ပြားအမှတ်၊၁၂/ရကန(နိုင်)၀၂၉၁၈၁) အုပ်ချုပ်မှုဒါရိုက်တာကိုယ်စားပြုသော **Golden Myint Manufacturing Co.,Ltd.** [အမှတ်(၂၁၅-၂၁၈)၊ စစ်တွေလမ်း၊ တောင်ဒဂုံစက်မှုဇုန်(၁)၊ ရန်ကုန်တိုင်းဒေသကြီး] (နောင်တွင် **"အငှားချထားခြင်းခံရသူ"**ဟု ခေါ်တွင်စေပြီး ယင်းစကားရပ်၌ ၎င်းအား ဆက်ခံသူများ၊ တရားဝင်ကိုယ်စားလှယ်များနှင့် ဥပဒေအရလွှဲအပ်ခြင်းခံရသူများပါဝင်သည်)က အခြားတစ်ဖက်တို့သည် တစ်ဖက်ပါစည်းကမ်းချက်များကို သတ်မှတ်၍ နှစ်ဦး သဘောတူချုပ်ဆိုကြပါသည်-




**ရည်ရွယ်ချက်**

၁။ **"အငှားချထားသူ"**ပိုင်ဆိုင်သော အမှတ်(၄၇၆)၊ မိုးကုတ်လမ်း၊ (၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီးတွင်ရှိသော ဓာတ်ခဲအလုပ်ရုံကို **"အငှားချထားခြင်းခံရသူ"** မှ ငှားရမ်းပြီး **အထည်ချုပ်လုပ်ငန်း**အဖြစ် အသုံးပြုရန် ရည်ရွယ်လျက် ဤငှားရမ်းသည့် သဘောတူစာချုပ်ကို ချုပ်ဆိုခြင်းဖြစ်သည်။

**အာမခံခြင်းနှင့် ကိုယ်စားပြုခြင်း**

၂။ **"အငှားချထားသူ"**သည် ဓာတ်ခဲအလုပ်ရုံကို တရားဝင် ပိုင်ဆိုင်သူဖြစ်ပြီး **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ရည်ရွယ်ချက်ပါလုပ်ငန်းကို အကောင်အထည်ဖော်ဆောင်ရွက်ရန် ငွေကြေးပြည့်စုံပြီး စာချုပ်ပါလုပ်ငန်းကို လုပ်ကိုင်ခွင့်ရှိသူဖြစ်သည်။ စာချုပ်တွင် လက်မှတ်ရေးထိုးမည့်သူများသည် ဤစာချုပ်တွင် လက်မှတ်ရေးထိုးရန် အခွင့်အာဏာရှိသူများဖြစ်ကြောင်းကို အသီးသီး အာမခံကြပါသည်။

**အငှားချထားမည့် ပစ္စည်းများ**

၃။ **"အငှားချထားခြင်းခံရသူ"** သည် အောက်ပါ **"အငှားချထားသူ"** ပိုင်ဆိုင်သည့်မြေနှင့် အဆောက်အအုံများကို ငှားရမ်း၍ လုပ်ငန်းများဆောင်ရွက်မည်ဖြစ်ပါသည် -

| | | |
|---|---|---|
| (က) | အဆောက်အအုံအမည် | ဓာတ်ခဲအလုပ်ရုံ |
| (ခ) | တည်နေရာ | အမှတ်(၄၇၆)၊ မိုးကုတ်လမ်း၊ (၂၃)ရပ်ကွက်၊ စက်မှုဇုန်(၁)၊ ဒဂုံမြို့သစ်(တောင်ပိုင်း)မြို့နယ်၊ ရန်ကုန်တိုင်းဒေသကြီး |
| (ဂ) | မြေဧရိယာအကျယ်အဝန်း | ၅.၄၇၉ ဧက |




| | | | |
|---|---|---|---|
| (ဃ) | အဆောက်အအုံအတိုင်းအတာ | (၁) အလုပ်ရုံ(၁) | ၁၆၄ ' x ၆၂ 'x ၁၃ ' |
| | | (၂) အလုပ်ရုံ(၂) | ၁၆၄ ' x ၆၂ 'x ၁၃ ' |
| | | (၃) အလုပ်ရုံ(၃) | ၁၉၀ ' x ၆၂ 'x ၁၃ ' |
| | | (၄) အလုပ်ရုံ(၄) | ၁၆၄ ' x ၆၂ 'x ၁၃ ' |
| | | | ၂၆ ' x ၂၄ 'x ၁၃ ' |
| | | (၅) Boiler House | ၅၈ ' x ၂၄ 'x ၁၃ ' |
| | | (၆) Dining Hall | ၁၁၇ ' x ၅၂ 'x ၁၃ ' |
| (င) | အဆောက်အအုံပုံ | နောက်ဆက်တွဲ (က) | |
| (စ) | မြေစာရင်းမြေပုံ | နောက်ဆက်တွဲ (ခ) | |

**စာချုပ်သက်တမ်း**

၄။ စာချုပ်သက်တမ်းမှာ ဤစာချုပ် အသက်ဝင်သောနေ့ ၂၀၁၄ ခုနှစ် အောက်တိုဘာလ ၁ ရက်နေ့မှ စ၍၊၂၀၃၉ ခုနှစ်၊ အောက်တိုဘာလ ၁ ရက်နေ့အထိ ၂၅ နှစ် ဖြစ်ပြီး၊ ငှားရမ်းသက်တမ်းကုန်ဆုံးပြီးနောက် ဆက်လက်ငှားရမ်းလိုပါက သက်တမ်းတစ်ကြိမ်လျှင် ၅ နှစ်ဖြင့် သက်တမ်းနှစ်ကြိမ်တိုးမြှင့်ငှားရမ်းနိုင်သည်။ **"အငှားချထားခြင်းခံရသူ"**သည် ငှားရမ်းခနှုန်းထားဖော်ပြလျက် အကျိုးအကြောင်းခိုင်လုံစွာဖြင့် စာချုပ်သက်တမ်းတိုးမြှင့်ပေးပါရန် **"အငှားချထားသူ"**ထံ စာချုပ်သက်တမ်း မကုန်ဆုံးမီ ၆ လ ကြိုတင်၍ စာဖြင့်တင်ပြရမည်။ **"အငှားချထားသူ"** က သဘောတူညီလျှင် စာချုပ်သက်တမ်းတိုးမြှင့် နိုင်သည်။







**“အငှားချထားခြင်းခံရသူ”မှ ရင်းနှီးမြှုပ်နှံရန် ရည်မှန်းချက်**

၅။ **“အငှားချထားခြင်းခံရသူ”**သည် မြေအားငှားရမ်းပြီး အထည်ချုပ်လုပ်ငန်း လုပ်ကိုင်ရန် အမေရိကန်ဒေါ်လာ ၅.၅ သန်းခန့် ရင်းနှီးမြှုပ်နှံမည်ဖြစ်ပါသည်။

**ပြင်ပဝန်ထမ်း စည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်း**

၆။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းအင်အားမှာ အောက်ပါအတိုင်း ဖြစ်ပြီး အသေးစိတ်စာရင်းကို နောက်ဆက်တွဲ (ဂ)ဖြင့် ဖော်ပြအပ်ပါသည်-

| စဉ် | လစာနှုန်း(ကျပ်) | ဦးရေ |
|---|---|---|
| (က) | ၁၈၀၀၀၀-၂၀၀၀-၁၉၀၀၀၀ | ၁ |
| (ခ) | ၁၆၀၀၀၀-၂၀၀၀-၁၇၀၀၀၀ | ၂ |
| | **အရာထမ်းစုစုပေါင်း** | ၃ |
| (ဂ) | ၁၀၅၀၀၀-၁၀၀၀-၁၁၀၀၀၀ | ၂၆ |
| (ဃ) | ၉၉၀၀၀-၁၀၀၀-၁၀၄၀၀၀ | ၂၇ |
| (င) | ၉၃၀၀၀-၁၀၀၀-၉၈၀၀၀ | ၂ |
| (စ) | ၈၇၀၀၀-၁၀၀၀-၉၂၀၀၀ | ၆ |
| (ဆ) | ၈၁၀၀၀-၁၀၀၀-၈၆၀၀၀ | ၄ |
| | **အမှုထမ်းစုစုပေါင်း** | ၆၅ |
| | **နေ့စား** | ၃ |
| | **ဝန်ထမ်းစုစုပေါင်း** | ၇၁ |

**ဝန်ထမ်းရေးရာကိစ္စရပ်များ**

၇။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **“အငှားချထားခြင်းခံရသူ”**မှ တစ်ဖက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည်-



Battery 4







(က) စက်ရုံရှိပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများ၏ ဝန်ထမ်းလစာနှင့် ထောက်ပံ့ကြေးများကို စာချုပ်ချုပ်ဆိုပြီးသည့် အချိန်မှစ၍ လစဉ်လစာထုတ်ရက်တွင် ထုတ်ပေးရမည်။

(ခ) အကြောင်းတစ်စုံတစ်ရာကြောင့် နိုင်ငံတော်မှ လစာနှုန်းထားများပြောင်းလဲခဲ့လျှင် ပြောင်းလဲသည့် နှုန်းထားအတိုင်း ထုတ်ပေးရမည်။

(ဂ) အခါအားလျော်စွာ ရာထူးတိုးမြှင့်ခြင်း၊ နှစ်တိုးတိုးမြှင့်ခြင်းခံရသော ဝန်ထမ်းများအတွက် တိုးမြှင့်လစာနှင့် နှစ်တိုးကို ခံစားခွင့်ပြုရမည်။

(ဃ) **"အငှားချထားခြင်းခံရသူ"**သည် လက်ရှိတာဝန်ထမ်းဆောင်နေသော ဝန်ထမ်းများအား ဆက်လက်တာဝန်ပေးခန့်အပ်ရမည်။

(င) ဝန်ထမ်းများ၏ လစာ၊နှစ်တိုး၊စရိတ်နှင့်ထောက်ပံ့ကြေးများအား နိုင်ငံတော်၏ ခွင့်ပြုနှုန်းထားများအတိုင်း **"အငှားချထားခြင်းခံရသူ"**မှ ဆက်လက်ပေးဆောင်ရမည်။ မူရင်းလစာအား နိုင်ငံတော်သတ်မှတ်နှုန်းထားထက်ပို၍မပေးရ။ နိုင်ငံတော်မှ အခါအားလျော်စွာ ဝန်ထမ်းများအတွက် ထောက်ပံ့ချီးမြှင့်ရန် သတ်မှတ်ထားသော ထောက်ပံ့ကြေးကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူ၍ ဝန်ထမ်းများသို့ ထောက်ပံ့ချီးမြှင့်ပေးရမည်။

(စ) စက်ရုံဝန်ထမ်းအား အငှားချထားသည့် စက်ရုံနှင့်ပတ်သက်သည့် လုပ်ငန်းတာဝန်ကိုသာ ပေးအပ်ရမည်။အခြားလုပ်ငန်းတာဝန်များပေးအပ်လိုပါက စက်မှုဝန်ကြီးဌာနသို့ တင်ပြ၍ အတည်ပြုချက်ယူရမည်။

(ဆ) ဝန်ထမ်းများ၏လူမှုဖူလုံရေးလစဉ်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"**မှ ဝန်ထမ်းလစာ၏ ၃ ရာခိုင်နှုန်းကျခံပေးသွင်းရမည်။




(ဇ) ဝန်ထမ်းများ၏ လူမှုဖူလုံရေးအကျိုးခံစားခွင့်ရရှိရေးအတွက် **"အငှားချထားခြင်းခံရသူ"** မှ တာဝန်ယူရမည်။

(ဈ) ဝန်ထမ်းများ၏ ပင်စင်ထည့်ဝင်ကြေးကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူရမည်။

(ည) ဝန်ထမ်းများ၏ သက်သာချောင်ချိရေးကိစ္စများကို **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူရမည်။

(ဋ) ဝန်ထမ်းများလုပ်ငန်းခွင်တွင် မတော်တဆထိခိုက်မှုဖြစ်ပွားပါက **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူဆောင်ရွက်ပေးရမည်။

(ဌ) စက်ရုံလွှဲပြောင်းသည့်အခါ ပါရှိသောဝန်ထမ်းများအနက် ရာထူးမှနုတ်ထွက်လိုခြင်း၊ နှစ်ပြည့် (သို့မဟုတ်) သက်ပြည့်အငြိမ်းစားယူခြင်းများရှိပါက **"အငှားချထားသူ"**ထံ တင်ပြဆောင်ရွက်ရမည်။

(ဍ) လွှဲပြောင်းပေးသည့်ဝန်ထမ်းများကို ဝန်ထမ်းဆိုင်ရာပြစ်မှု၊ တာဝန်ပျက်ကွက်မှုနှင့် အခြားအကြောင်းအချက်များကြောင့် ဝန်ထမ်းစည်းမျဉ်းစည်းကမ်းများအရ အရေးယူရန်လိုအပ်ပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့ ပါဝင်သည့် စုံစမ်းစစ်ဆေးရေးအဖွဲ့ဖြင့်ဖွဲ့စည်းပြီး လုပ်ငန်းဌာနအကြီးအကဲနှင့်ဝန်ကြီးဌာနတို့၏ အတည်ပြုချက်အရဆောင်ရွက်ရမည်။

(ဎ) လွှဲပြောင်းပေးမည့်ဝန်ထမ်း(အရာထမ်း/အမှုထမ်း)များမှ ဝန်ကြီးဌာနနှင့်လုပ်ငန်း(ရုံးချုပ်)၏ လိုအပ်ချက်ရှိလာပါက **"အငှားချထားသူ"** မှ **"အငှားချထားခြင်းခံရသူ"**နှင့် အခြားစက်ရုံ၊ ဌာနတစ်ခုခုသို့ ပြောင်းရွှေ့တာဝန်ပေးအပ်နိုင်ပြီး ၎င်းဝန်ထမ်း၏နေရာအတွက်ဖြည့်တင်းပေးလိုက **"အငှားချထားသူ"** မှ အစားထိုးဖြည့်တင်းနိုင်သည်။




(ဏ) လွှဲပြောင်းပေးပြီးသည့်ဝန်ထမ်းများ၏ ခွင့်ခံစားချက်နှင့်ပတ်သက်၍ နိုင်ငံ့ဝန်ထမ်းဥပဒေ အခန်း(၆)၊ အပိုဒ်(၁၄)ပါ ခွင့်အမျိုးအစားများကို သတ်မှတ်စည်းကမ်းချက်များနှင့်အညီ **"အငှားချထားခြင်းခံရသူ"**မှ ခွင့်ပြုပေးရမည်ဖြစ်ပြီး **"ခွင့်နှင့်စပ်လျဉ်းသည့် ကိစ္စရပ်များ"**ကို နိုင်ငံ့ဝန်ထမ်းဥပဒေ အပိုဒ်(၁၅)မှ (၂၂)အထိ သတ်မှတ်ချက်များအတိုင်း **"အငှားချထားခြင်းခံရသူ"**မှ တာဝန်ယူစီမံခန့်ခွဲကြီးကြပ်ရမည်။

(တ) ဝန်ထမ်းဆိုင်ရာအကျိုးခံစားခွင့်၊ ငွေကြေး၊ အခွင့်အရေးဆိုင်ရာများတွင် လွှဲပြောင်းပေးသည့် ဝန်ထမ်းများမှ တောင်းဆိုတင်ပြလာမှုများရှိပါက **"အငှားချထားသူ"** နှင့် **"အငှားချထားခြင်းခံရသူ"**တို့မှ ညှိနှိုင်း၍ဖြေရှင်းဆောင်ရွက်ပေးရမည်။

(ထ) စက်ရုံရှိလွှဲပြောင်းပေးမည့်ဝန်ထမ်းများသည် **"ပြင်ပဝန်ထမ်းစည်းကမ်းချက်များ"** နှင့်အညီ လိုက်နာသွားရမည်ဖြစ်ပါသည်။ အထက်ပါအချက်များပါဝင်သည့် ပြင်ပဝန်ထမ်းစည်းကမ်းချက်များကို ပြည်ထောင်စုရာထူးဝန်အဖွဲ့သို့ညှိနှိုင်း၍ လုပ်ငန်းမှထုတ်ပြန်ပေးသွားရမည်ဖြစ်ပါသည်။အဆိုပါစည်းကမ်းချက်များကို **"အငှားချထားသူ"**နှင့် **"လွှဲပြောင်းပေးမည့်ဝန်ထမ်းများ"** မှ လိုက်နာသွားရမည်။

၈။ လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ **"အငှားချထားသူ"** မှ အောက်ပါစည်းကမ်းချက်များနှင့်အညီ လိုက်နာဆောင်ရွက်ရမည် -

(က) ဝန်ထမ်းအား ပြောင်းရွှေ့တာဝန်ထမ်းဆောင်ခြင်း ဆိုင်ရာကိစ္စရပ်များအား **"အငှားချထားသူ"**၏ စီမံမှုဖြင့်သာ ဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းများ ရာထူးအနှယ်(Lien) ဆက်လက်ထိန်းသိမ်းထားပြီး ရာထူးတိုးမြှင့်ရန် အချိန်ကျရောက်သည့်အခါ ရာထူးတိုးမြှင့်ခြင်းကိစ္စရပ်များကို **"အငှားချထားသူ"** မှ ဆောင်ရွက်ရမည်။



Battery 7







(ဂ) **"အငှားချထားခြင်းခံရသူ"** ဆောင်ရွက်မည့်ကိစ္စရပ်များမှအပ ကျန်ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး၊ ဥက္ကဋ္ဌအဖြစ် ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။

(ဃ) ဝန်ထမ်းရေးရာကိစ္စများနှင့်ပတ်သက်၍ **"အငှားချထားခြင်းခံရသူ"**နှင့် ဝန်ထမ်းများအကြား အငြင်းပွားမှုဖြစ်လာပါက အမှတ်( ၂ )အကြီးစားစက်မှုလုပ်ငန်း၊ ဦးဆောင်ညွှန်ကြားရေးမှူး ဥက္ကဋ္ဌအဖြစ်ဆောင်ရွက်သည့် စီမံခန့်ခွဲရေးအဖွဲ့မှ တာဝန်ယူဆောင်ရွက်ရမည်။ စီမံခန့်ခွဲရေးအဖွဲ့အား တစ်ဖက်ပါအတိုင်းဖွဲ့စည်းရမည်-

| | | |
|---|---|---|
| (၁) | ဦးဆောင်ညွှန်ကြားရေးမှူး<br>အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း | ဥက္ကဋ္ဌ |
| (၂) | အုပ်ချုပ်မှုဒါရိုက်တာ<br>**Golden Myint Manufacturing Co.,Ltd** | အဖွဲ့ဝင်(၁) |
| (၃) | ညွှန်ကြားရေးမှူး<br>စီမံရေးဌာန | အဖွဲ့ဝင်(၂) |
| (၄) | ညွှန်ကြားရေးမှူး<br>ထုတ်လုပ်ရေးဌာန | အဖွဲ့ဝင်(၃) |
| (၅) | ညွှန်ကြားရေးမှူး<br>ဘဏ္ဍာရေးဌာန | အဖွဲ့ဝင်(၄) |
| (၆) | ညွှန်ကြားရေးမှူး<br>ရောင်းချဖြန့်ဖြူးရေးဌာန | အဖွဲ့ဝင်(၅) |
| (၇) | ညွှန်ကြားရေးမှူး<br>အုပ်ချုပ်ရေးဌာန | အတွင်းရေးမှူး |



Battery 8




၉။ ပြင်ပဝန်ထမ်းစည်းကမ်းချက်ဖြင့် လွှဲပြောင်းပေးမည့်ဝန်ထမ်းများနှင့်ပတ်သက်၍ အောက်ပါအချက်များအား **"အငှားချထားခြင်းခံရသူ"** နှင့် **"အငှားချထားသူ"** တို့မှ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်-

(က) ဝန်ထမ်းများရာထူးတိုးခြင်း၊ အရေးယူအပြစ်ပေးခြင်းနှင့် ဝန်ထမ်းရေးရာကိစ္စရပ်များအား နိုင်ငံတော်မှသတ်မှတ်ထားသည့် ပြင်ပဝန်ထမ်းစည်းမျဉ်းများနှင့်အညီ နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

(ခ) ဝန်ထမ်းရေးရာကိစ္စရပ်များနှင့်ပတ်သက်၍ ဝန်ထမ်းများ နစ်နာမှုမရှိစေရေးအတွက် နှစ်ဦးနှစ်ဖက်ညှိနှိုင်းဆောင်ရွက်ရမည်။

**ငှားရမ်းခနှုန်းထား**

၁၀။ ငှားရမ်းခနှုန်းထားမှာအပိုဒ်(၃)ပါ မြေနှင့်အဆောက်အအုံများကို တစ်နှစ်လျှင် ကျပ် ၂၂၅ သန်း (ကျပ် နှစ်ရာနှစ်ဆယ့်ငါးသန်းတိတိ)ဖြစ်ပါသည်။

၁၁။ ငှားရမ်းခနှုန်းထားအား တစ်နှစ်တစ်ကြိမ် ပြန်လည်သုံးသပ်ပြီး လိုအပ်ပါက စာချုပ်ဝင် နှစ်ဦးသဘောတူညှိနှိုင်းပြင်ဆင်ခြင်းကို စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေးသို့တင်ပြအတည်ပြုချက်ရယူ၍ ပြင်ဆင်သတ်မှတ်နိုင်ပြီး ထိုပြင်ဆင်သတ်မှတ်သော ငှားရမ်းခနှုန်းထားသည် မူလ ငှားရမ်းခနှုန်းထား၏ ၁၀ ရာခိုင်နှုန်းထက် မပိုသောပမာဏ ဖြစ်ရမည်။

**ငှားရမ်းခပေးချေခြင်း**

၁၂။ **"အငှားချထားခြင်းခံရသူ"**သည် တစ်နှစ်ငှားရမ်းခ ကျပ် ၂၂၅ သန်းတိတိကို သုံးလလျှင်တစ်ကြိမ် ကျပ်သန်း ၅၆.၂၅ တိတိ (ကျပ် ငါးဆယ့်ခြောက်သန်းနှစ်သိန်းငါးသောင်းတိတိ)ကို ပေးချေရမည်ဖြစ်ပြီး ငှားရမ်းခပေးချေရာတွင် ပေးသွင်းရမည့်ကာလအား **"စာချုပ် ချုပ်ဆိုသည့်နေ့"** မှစ၍



Battery 9







ပထမရက်သတ္တပတ်အတွင်း ပေးသွင်းရမည်။ ကျန် ၃ လကာလများတွင်လည်း ပထမလ၏ ပထမရက်သတ္တပတ်အတွင်း ပေးချေရမည်ဖြစ်ပါသည်။ သတ်မှတ်ရက်အတွင်း ပေးသွင်းခြင်းမရှိပါက နောက်ကျကြေးအဖြစ် တစ်ပတ်လျှင် သုံးလတစ်ကြိမ်ငှားရမ်းခ ကျပ် ၅၆.၂၅ သန်းတိတိ၏ ၁ ရာခိုင်နှုန်း အား **"အငှားချထားသူ"** ထံသို့ ပေးသွင်းရမည်။ နောက်ကျကြေးကို တစ်ပတ်မပြည့်ဘဲ ရက်စွန်းလျှင်လည်း သုံးလတစ်ကြိမ် ငှားရမ်းခ ကျပ် ၅၆.၂၅ သန်းတိတိ၏ ၁ ရာခိုင်နှုန်းအား **"အငှားချထားသူ"** ထံသို့ ပေးသွင်းရမည်။

**"အငှားချထားခြင်းခံရသူ"၏ တာဝန်ဝတ္တရားများ**

၁၃။ **"အငှားချထားခြင်းခံရသူ"**သည် အောက်ပါတို့ကို တာဝန်ယူဆောင်ရွက်ရန် ကတိကဝတ်ပြုပါသည် -

(က) အငှားချထားသော အဆောက်အအုံများကို ကောင်းမွန်စွာပြုပြင်ပေးရန်နှင့် ကောင်းမွန်သည့် အခြေအနေတွင်ရှိနေအောင် ထားရှိပေးရန်အပြင် ငှားရမ်းထားသည့်ကာလ (သို့မဟုတ်) တိုးချဲ့ထားသည့် ကာလရှိခဲ့လျှင် အဆိုပါငှားရမ်းကာလကုန်ဆုံးချိန်၌ ကောင်းမွန်စွာ ပြုပြင်ထားပြီး ကောင်းမွန်သော အခြေအနေရှိနေသည့် အဆောက်အအုံများကို **"အငှား ချထားသူ"** သို့ လွှဲပြောင်းပေးရမည်။

(ခ) အငှားချထားသော အဆောက်အအုံများတွင် ဆောင်ရွက်နေသော လုပ်ငန်းများအားလုံးကို ပြည်ထောင်စုသမ္မတမြန်မာနိုင်ငံတော်၏ တည်ဆဲဥပဒေများနှင့်အခါအားလျော်စွာ ပြင်ဆင်ပြောင်းလဲမှုများနှင့်အညီ ဆောင်ရွက်ရမည်။

(ဂ) **"အငှားချထားခြင်းခံရသူ"**သည် အငှားချထားသည့် မြေနှင့်အဆောက်အအုံများကို **အထည်ချုပ်လုပ်ငန်းအတွက်သာ** အသုံးပြုရန်နှင့် မီးလောင်ပေါက်ကွဲလွယ်သောပစ္စည်းများ၊ သဘာဝပတ်ဝန်းကျင်အား ထိခိုက်စေသော ကုန်ပစ္စည်းများ ဥပဒေမှခွင့်မပြုသောပစ္စည်း

များအား သိုလှောင်ထားခြင်းမပြုရပါ ။ (ပေါက်ကွဲလွယ်သောပစ္စည်းဆိုသည်မှာ ပစ္စည်းအမျိုးအမည် တစ်မျိုးတည်းထားခြင်းဖြင့် မီးလောင်ပေါက်ကွဲမှုမဖြစ်နိုင်သော်လည်း ပစ္စည်းများ ရောနှောသိုလှောင်ခြင်းဖြင့် ၎င်းတို့အချင်းချင်းဓာတ်ပြုပြီး မီးလောင်ပေါက်ကွဲနိုင်သည့် ပစ္စည်းများကို ဆိုလိုပါသည်။)

(ဃ) အငှားချထားသည့် မြေနှင့်အဆောက်အအုံများအား တစ်ဆင့်ငှားရမ်းခြင်း၊ ပေါင်နှံခြင်း၊ ရောင်းချခြင်း(သို့မဟုတ်) တစ်နည်းနည်းဖြင့် လွှဲပြောင်းပေးခြင်း၊ အသုံးပြုခွင့်ပေးခြင်းတို့ကို မပြုလုပ်ရ။

(င ) **"အငှားချထားခြင်းခံရသူ"**သည် မြေခွန်မှလွဲ၍ အငှားချထားသော မြေ၊အဆောက်အအုံများနှင့်ပတ်သက်သော အခွန်အခများအားလုံးကို ပေးသွင်းရမည်။

(စ ) ငှားရမ်းသည့် အဆောက်အအုံများတွင် အခြားစက်ရုံ၊ အလုပ်ရုံ၊ စားသောက်ဆိုင်စသော စီးပွားရေးလုပ်ငန်းများ လုပ်ကိုင်ခြင်းမပြုရ။

(ဆ) ငှားရမ်းထားသည့်မြေပေါ်တွင် အခြားအဆောက်အအုံများ ထပ်မံဆောက်လုပ်ခြင်း မပြုရန်နှင့် ဆောင်ရွက်လိုသည့် ကိစ္စရပ်များအတွက် **"အငှားချထားသူ"**ထံ ခွင့်ပြုချက်ရယူပြီးမှသာ ဆောင်ရွက်ရမည်။

(ဇ ) အငှားချထားသည့် အလုပ်ရုံတွင် အသုံးပြုသော လျှပ်စစ်ဓာတ်အားခ၊ ရေအခွန်အခများအား **"အငှားချထားခြင်းခံရသူ"**မှ သတ်မှတ်ကာလအလိုက်ပေးချေရမည်။ ပေးချေရာတွင် သက်ဆိုင်ရာအငှားချထားသူဌာနနှင့်ဆက်သွယ်၍ ဆောင်ရွက်ရမည်။

(ဈ ) လျှပ်စစ်ဓာတ်အား သုံးစွဲမှုကိုတည်ဆဲဥပဒေ စည်းမျဉ်းများနှင့်အညီသုံးစွဲပြီး မီးဘေးကာကွယ်ရေးအစီအမံများ လုံလောက်စွာထားရှိရမည်။







(ည) အငှားချထားသည့်အဆောက်အအုံ/မြေနှင့်ပတ်သက်၍ စစ်ဆေးရန်လိုအပ်ပါက **"အငှားချထားသူ"**က နည်းလမ်းတကျလုပ်ကိုင်ခွင့်ပေးအပ်သော ကိုယ်စားလှယ်များကိုဝင်ရောက်ခွင့်ပြုရမည်။

(ဋ) **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်၏ရည်ရွယ်ချက်ပါလုပ်ငန်းများဆောင်ရွက်ရန်အတွက် နိုင်ငံခြားအဖွဲ့အစည်းများ၊ နိုင်ငံခြားလူပုဂ္ဂိုလ်များ၊ ပြည်တွင်းအဖွဲ့အစည်းများ၊ ပြည်တွင်းလူပုဂ္ဂိုလ်များနှင့် ပူပေါင်းဆောင်ရွက်နိုင်သည်။

**"အငှားချထားသူ"၏ တာဝန်ဝတ္တရားများ**

၁၄။ **"အငှားချထားသူ"**၏ တာဝန်ဝတ္တရားများမှာ အောက်ပါအတိုင်းဖြစ်ပါသည်-

(က) **"အငှားချထားသူ"**သည် အငှားချထားသော မြေနှင့်အဆောက်အအုံများကို **"အငှားချထားခြင်းခံရသူ"**အား ဤစာချုပ်သက်တမ်းအတွင်း ငှားရမ်းရန် မှတ်တမ်းများနှင့်တကွ လွှဲပြောင်းပေးရမည်။

(ခ) **"အငှားချထားခြင်းခံရသူ"**သို့ အငှားချထားသည့် ဓာတ်ခဲအလုပ်ရုံကို လွှဲပြောင်းပေးပြီး လုပ်ငန်းဆောင်ရွက်ခွင့်ပေးရမည်။

(ဂ) အဆောက်အအုံတွင် တပ်ဆင်ထားပြီးသော လျှပ်စစ်၊ ရေတို့ကို **"အငှားချထားခြင်းခံရသူ"** အား ဆက်လက်အသုံးချခွင့်ပြုရမည်။

(ဃ) အငှားချထားသည့် အဆောက်အအုံများ၏ အခြေအနေကို နည်းလမ်းတကျ လုပ်ပိုင်ခွင့်ပေးအပ်သော အငှားချထားသူ၏ ကိုယ်စားလှယ်များအား အခါအားလျော်စွာ စေလွှတ်၍ စစ်ဆေးရမည်။

(င) အငှားချထားသည့် အဆောက်အအုံများအတွက် ကျသင့်သည့်မြေခွန်ကို ပေးဆောင်ရမည်။

(စ) အဆောက်အအုံတွင် အသုံးပြုသော လျှပ်စစ်နှင့်ရေ အသုံးပြုခြင်းနှင့် အခွန်အခများအား **"အငှားချထားခြင်းခံရသူ"** မှ လစဉ်အချိန်မီ ပေးဆောင်မှု ရှိ/မရှိ စစ်ဆေးရမည်။

ခုတ်သတ္တုအရင်းအမြစ်များ

၁၅။ စာချုပ်ပါစည်းကမ်းချက်များအတိုင်း လုပ်ကိုင်ဆောင်ရွက်နေစဉ်အတွင်း အငှားချထားသော မြေ၏ မြေပေါ်၊မြေအောက်မှ မမျှော်လင့်ဘဲ ခုတ်သတ္တုအရင်းအမြစ်များ၊ ရေနံဓာတုဆိုင်ရာပစ္စည်း များ၊ သဘာဝသယံ ဇာတပစ္စည်းများ၊ ရှေးဟောင်းပစ္စည်းများ၊ ကျောက်မျက်ရတနာများ အစရှိသည်တို့ကို တွေ့ရှိပါက **"အငှားချထားသူ"**ထံသို့ ချက်ချင်းအကြောင်းကြားရမည်။ အဆိုပါပစ္စည်းများသည် **"အငှားချထားခြင်းခံရသူ"**နှင့် သက်ဆိုင်ခြင်းမရှိစေရ။ **"အငှားချထားသူ"**သည် အဆိုပါပစ္စည်း များကို **"အငှားချထားခြင်းခံရသူ"**၏လုပ်ငန်းများ နစ်နာဆုံးရှုံးမှုမရှိစေဘဲ လွတ်လပ်စွာတူးဖော် ရယူခွင့်ရှိစေသည့်အပြင် နိုင်ငံတော်အစိုးရသို့ လွှဲပြောင်းတင်ပြခွင့်ရှိစေရမည်။

ပတ်ဝန်းကျင်ထိန်းသိမ်းကာကွယ်ခြင်း

၁၆။ **"အငှားချထားခြင်းခံရသူ"**အနေဖြင့် လုပ်ငန်းလုပ်ဆောင်မည့် နေရာဒေသ၏ ပတ်ဝန်းကျင် နေရာဒေသများအား ကောင်းစွာကာကွယ်ထိန်းသိမ်းစောင့်ရှောက်ထားရန် တာဝန်ရှိသည်။ ထို့အပြင် လေထု၊ရေထုနှင့်၊ မြေထုများ ညစ်ညမ်းခြင်းနှင့် အခြားသော ပတ်ဝန်းကျင်ဆိုင်ရာ ထိခိုက်ပျက်စီး ဆုံးရှုံးခြင်းအား ကာကွယ်ထိန်းချုပ်ခြင်းလုပ်ငန်းများကို ဆောင်ရွက်ရမည်။ လေထုညစ်ညမ်းမှု မဖြစ် ပေါ်စေရန် အခိုးအငွေ့နှင့် အညစ်အကြေးစွန့် အစိတ်အပိုင်းများကို လုံခြုံစွာထားရှိပေးခြင်းဖြင့် အခြား သော ပတ်ဝန်းကျင်ဘေးအန္တရာယ်ကင်းရှင်းရေးဆိုင်ရာ လိုအပ်သော အကာအကွယ်အစီအစဉ်များ ဆောင်ရွက်ရမည်။

အကျိုးသက်ရောက်သည့်နေ့

၁၇။ ဤစာချုပ်သည် **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**တို့ လက်မှတ်ရေးထိုး သည့်နေ့မှစ၍ အကျိုးသက်ရောက်မှုရှိစေရမည်။

စာချုပ်ပြင်ဆင်ခြင်း

၁၈။ ဤစာချုပ်ပါ စည်းကမ်းချက်များကို ပြင်ဆင်ခြင်း၊ ပြောင်းလဲခြင်းနှင့် ထပ်မံဖြည့်စွက်ခြင်းတို့ ပြုလုပ်လိုပါက စာချုပ်ဝင်နှစ်ဦးနှစ်ဖက်မှ တရားဝင်စာဖြင့် သဘောတူညီချက်နှင့် စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေး၏ အတည်ပြုချက်အရသာ ပြုလုပ်နိုင်သည်။

၁၉။ **"အငှားချထားခြင်းခံရသူ"** မှ မြေနှင့်အဆောက်အအုံငှားရမ်းရာတွင် စီးပွားရေးအရ တွက်ခြေကိုက်မှုမရှိခြင်း၊ အခြားသောအဆင်မပြေမှုများရှိခြင်းကြောင့် စာချုပ်ပြင်ဆင်လိုပါက **"အငှားချထားသူ"** ထံ စာဖြင့် အကြောင်းကြားရမည်။ နှစ်ဦးနှစ်ဖက်ဆွေးနွေးမှုကို ၃ လ ထက် မပိုသောကာလအတွင်း ပြီးပြတ်အောင် ဆောင်ရွက်ရမည်။

**စာချုပ်ပြန်လည်ညှိနှိုင်းခြင်း**

၂၀။ စာချုပ်ပါစည်းကမ်းချက်များနှင့်အညီ အကောင်အထည်ဖော်ဆောင်ရွက်ရာတွင် လုပ်ငန်းလိုအပ်ချက်အရ (သို့မဟုတ်) ဤစာချုပ်တွင်မပါရှိသည့် ကိစ္စရပ်များပေါ်ပေါက်လာလျှင် စာချုပ်ဝင်နှစ်ဦးနှစ်ဖက် ညှိနှိုင်းခွင့်ရှိစေရမည်။

**စာချုပ်ရုပ်သိမ်းခြင်း**

၂၁။ (က) စာချုပ်ရုပ်စဲခြင်းနှင့်စပ်လျဉ်း၍ ဤစာချုပ်ကို အောက်ပါအကြောင်းရပ်တစ်ခုခု ပေါ်ပေါက်ပါ က စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရယူ၍ ရုပ်စဲခွင့်ရှိသည်-

(၁) မလွန်ဆန်နိုင်သော ဖြစ်ရပ်များကြောင့် အငှားချထားခြင်းခံရသည့် မြေနှင့်အဆောက်အအုံရှိ ပစ္စည်းများ ပျက်စီးဆုံးရှုံးသွား၍ **"အငှားချထားခြင်းခံရသူ"** က လုပ်ငန်း ဆက်လက်ဆောင်ရွက်ရန် မဖြစ်နိုင်တော့ခြင်း။

(၂) စာချုပ်သက်တမ်းကုန်ဆုံးခြင်း။

(၃) **"အငှားချထားခြင်းခံရသူ"**က လူမွဲအဖြစ်ခံယူသွားခြင်း။

(၄) နှစ်ဖက်သဘောတူရုပ်စဲခြင်း။

(ခ) စာချုပ်သက်တမ်းမကုန်ဆုံးမီ စာချုပ်အားရုပ်စဲလိုပါက ရုပ်စဲလိုကြောင်း စာချုပ်ဝင်တစ်ဖက်ဖက်မှ အခြားတစ်ဖက်ဖက်သို့ ၆ လ ကြိုတင်၍ နို့တစ်စာပေးပို့ရမည်။ စက်မှုဝန်ကြီးဌာန၊ ပစ္စည်းဝယ်ယူရောင်းချရေးနှင့်ဘဏ္ဍာရေးဆိုင်ရာကော်မတီအစည်းအဝေးသို့ တင်ပြအတည်ပြုချက်ရပြီးမှသာ တရားဝင်စာချုပ်ရုပ်စဲခွင့်ရှိပြီး စာချုပ်ရုပ်စဲခွင့်မရသေးမီ ကာလအထိ ပေးဆောင်ရန်ရှိသော ငှားရမ်းခအပါအဝင် အခွန်အခများကို **"အငှားချထားခြင်းခံရသူ"**က ပေးဆောင်ရမည်။



Battery 14

မြေနှင့်အဆောက်အအုံများလွှဲပြောင်းခြင်း

၂၂။ ဤစာချုပ်ပါ အငှားချထားသော ငှားရမ်းခြင်းကာလ ကုန်ဆုံးသည့်အခါဖြစ်စေ၊ စာချုပ်ရပ်စဲသည့်အခါဖြစ်စေ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်သက်တမ်းကုန်ဆုံးသည့်နေ့မှ ၄၅ ရက်အတွင်း မြေကွက်နှင့်အဆောက်အအုံကို **"အငှားချထားသူ"**သို့ အဖိုးစားနားမပါဘဲ လွှဲပြောင်းပေးအပ်ရမည်။ **သို့ရာတွင် "အငှားချထားခံရသူ"၏ အစီအစဉ်ဖြင့်တပ်ဆင်ထားသော ပစ္စည်းများကိုမူ လွှဲပြောင်းပေးအပ်မည့် စာရင်းမှ ဖယ်ထုတ်နိုင်သည်။**

မလွန်ဆန်နိုင်သည့်ဖြစ်ရပ်များ

၂၃။ မလွန်ဆန်နိုင်သောဖြစ်ရပ်များဆိုသည်မှာ သဘာဝအလျောက် ကြုံတွေ့နိုင်သည့် ရေဘေး၊ လေဘေး၊ မီးဘေး၊ မြေငလျင်ဘေး စသည်များအပြင် နိုင်ငံတော်အစိုးရ၏ ကန့်သတ်တားမြစ်ချက်များ၊ တရားဥပဒေစိုးမိုးရေးနှင့် ငြိမ်ဝပ်ပိပြားမှုပျက်ပြယ်ခြင်း၊ စစ်ဖြစ်ခြင်းစသည်တို့နှင့် စာချုပ်ဝင် တစ်ဖက်ဖက်က လိုအပ်သော သတိဝီရိယနှင့် ဆောင်ရွက်စေကာမူ မလွန်ဆန်မကျော်လွှားနိုင်သည့် အလားတူဖြစ်ရပ်များဖြစ်ပြီး ယင်းဖြစ်ရပ်များကြောင့် ငှားရမ်းသုံးစွဲမှုကို ထိခိုက်ဆုံးရှုံးစေလျှင် **"အငှားချထားခြင်းခံရသူ"**သည် **"အငှားချထားသူ"**သို့ နစ်နာဆုံးရှုံးမှုအတွက် လျော်ကြေးတောင်းခံခွင့် မရှိစေရ။

၂၄။ ထိုသို့ မလွန်ဆန်နိုင်သော ဖြစ်ရပ်များပေါ်ပေါက်လာပါက ယင်းဖြစ်ရပ်ဖြစ်ပေါ်သည့် အချိန်မှ ၇ ရက်အတွင်း **"အငှားချထားခြင်းခံရသူ"**သည် **"အငှားချထားသူ"**သို့ ချက်ချင်း စာဖြင့်ရေးသား အကြောင်းကြားရမည်။ **"အငှားချထားသူ"**က လက်ခံအတည်ပြုလျှင် မလွန်ဆန်နိုင်သော ဖြစ်ရပ်မြောက်ပြီး မြေနှင့်အဆောက်အအုံ ငှားရမ်းအသုံးပြုခွင့်နှင့် တိုက်ရိုက်သက်ဆိုင်သော ဖြတ်တောက်ကာလ အပိုင်းအခြားအတွက် ငှားရမ်းခကို သက်သာခွင့်ပြုနိုင်သည်။

၂၅။ အငှားချထားသည့်ပစ္စည်းအားလုံးကို လျော်ကန်သင့်မြတ်သော သတိ၊ ဝီရိယဖြင့် ကောင်းမွန်စွာ ထိန်းသိမ်းထားပြီး လိုအပ်သော ပြင်ဆင်မွမ်းမံမှုအားလုံးကို ပြုလုပ်ရမည်။ အကယ်၍ အဆိုပါပစ္စည်းများအားလုံးဖြစ်စေ၊ တစ်စိတ်တစ်ဒေသဖြစ်စေ မီးလောင်ခြင်း၊ မြေငလျင်လှုပ်ခြင်း၊ လေမုန်တိုင်းကျရောက်ခြင်း၊ရေကြီးခြင်း၊ရန်းရင်းဆန်ခတ်မှုဖြစ်ပေါ်ခြင်း(သို့မဟုတ်)အခြားမလွန်ဆန်နိုင်သည့် အကြောင်းတရားများကြောင့် ပျက်စီးသွားလျှင် ၇ ရက်အတွင်း အကြောင်းကြားရမည်။

၂၆။ သို့ရာတွင် အငှားချထားသည့် ပစ္စည်းများ၏ ပျက်စီးဆုံးရှုံးခြင်းဖြစ်ပေါ်ရခြင်းမှာ**"အငှားချထားခြင်းခံရသူ"**၏ မှားယွင်းသောလုပ်ဆောင်ချက်၊ သင့်လျော်သလိုဆောင်ရွက်ရန် ပျက်ကွက်ခြင်း (သို့မဟုတ်)ပေါ့လျော့ခြင်းကြောင့် ဖြစ်ပွားပါက **"အငှားချထားခြင်းခံရသူ"**သည် ဤစာပိုဒ်ပါ အခွင့်အရေးကို ရယူခံစားနိုင်ခွင့်မရှိသည့်အပြင် ယင်းပစ္စည်းများအား နဂိုမူလအခြေအနေသို့ ရောက်ရှိအောင် ပြန်လည်ပြင်ဆင်မွမ်းမံရသည့် ကုန်ကျစရိတ်အားလုံးကိုပေးချေရမည်။

အငြင်းပွားမှုဖြေရှင်းခြင်း

၂၇။ ဤစာချုပ်နှင့်စပ်လျဉ်း၍ အငြင်းပွားမှုတစ်စုံတစ်ရာ ပေါ်ပေါက်လာပါက ထိုအငြင်းပွားမှုကို ငြိမ်းချမ်းသောနည်းလမ်းဖြင့် နှစ်ဦးနှစ်ဖက်ဖြေရှင်းကြရမည်။ ထိုကဲ့သို့ ဖြေရှင်း၍ မရနိုင်ပါက ဥပဒေနှင့်အညီ သက်ဆိုင်ရာ စီရင်ပိုင်ခွင့်ရှိသော တရားရုံး၏ အဆုံးအဖြတ်ကို ခံယူရမည်။

Premium ကြေးပေးသွင်းခြင်း

၂၈။ ခာတ်ခဲအလုပ်ရုံမြေနှင့်အဆောက်အအုံများအား ငှားရမ်းခြင်းအတွက် မြေအသုံးချမှု ပရီမီယမ် (Land Use Premium)အဖြစ် ကျပ် ၁၅ သန်း (ကျပ် တစ်ဆယ့်ငါးသန်းတိတိ)အား စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်ပတ်အတွင်း ပေးသွင်းရမည်။ Premium ကြေး ပေးသွင်းပြီးမှသာ ငှားရမ်းခြင်းစာချုပ်အတည်ဖြစ်မည်။

၂၉။ **"အငှားချထားခြင်းခံရသူ"**က Premium ကြေး ပေးသွင်းရန် နောက်ကျပါက ရက်သတ္တပတ်နောက်ကျတိုင်း ရက်လွန်ကြေးအဖြစ် ပေးသွင်းသော Premium ကြေး၏ ၀.၅ ရာခိုင်နှုန်းကို နောက်ကျဒဏ်ကြေးအဖြစ်ပေးသွင်းရမည်ဖြစ်သည်။တစ်ပတ်မပြည့်ဘဲရက်စွန်းလျှင်လည်း အလားတူဒဏ်ကြေးပေးဆောင်ရမည်ဖြစ်သည်။

ဘဏ်အာမခံ(Bank Guarantee)ပေးသွင်းခြင်း

၃၀။ **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်လက်မှတ်ရေးထိုးသည့်နေ့မှစ၍ တစ်ပတ်အတွင်း တစ်နှစ်ငှားရမ်းခငွေ၏ ၁၀ရာခိုင်နှုန်း နှင့်ညီမျှသော Bank Guarantee ကျပ် ၂၂.၅ သန်း( ကျပ်နှစ်ဆယ့်နှစ်သန်းငါးသိန်းတိတိ)ကို မြန်မာ့စီးပွားရေးဘဏ်မှ Payment Order Cheque ဖြင့် အမှတ်(၂)အကြီးစားစက်မှုလုပ်ငန်း၊ ဘဏ္ဍာရေးဌာနသို့ ပေးသွင်းထားရမည်။ သတ်မှတ်ရက်အတွင်း ပေးသွင်းခြင်းမရှိပါ က နောက်ကျကြေးအဖြစ် တစ်ပတ်လျှင် ကျပ် ၂၂.၅ သန်းတိတိ၏ ၁ ရာခိုင်နှုန်းအား **"အငှားချထားသူ"** ထံသို့ ပေးသွင်းရမည်။နောက်ကျကြေးကို တစ်ပတ်မပြည့်ပဲ ရက်စွန်းလျှင်လည်း ကျပ် ၂၂.၅ သန်း တိတိ ၁ ရာခိုင်နှုန်း အား **"အငှားချထားသူ"** ထံ သို့ ပေးသွင်းရမည်။

၃၁။ **"အငှားချထားခြင်းခံရသူ"**မှ စာချုပ်ပါ စည်းကမ်းချက်တစ်ရပ်ရပ်ကို ဖောက်ဖျက်ပါက ဘဏ်အာမခံ(Bank Guarantee)ကို **"အငှားချထားသူ"**မှ သိမ်းယူမည်ဖြစ်ပြီး ကုမ္ပဏီအား Black List အမည်ပျက်စာရင်း ပေးသွင်းခြင်းခံရမည်။

ဘဏ်အာမခံ(Bank Guarantee) သက်တမ်း

၃၂။ **"အငှားချထားခြင်းခံရသူ"**မှ ပေးသွင်းထားသည့် ဘဏ်အာမခံ(Bank Guarantee) ၏ သက်တမ်းသည် တစ်နှစ်ဖြစ်ပြီး **"အငှားချထားခြင်းခံရသူ"**မှ တစ်နှစ်တစ်ကြိမ်ပြန်လည် တင်သွင်းရမည်။

ပျက်ကွက်ခြင်း

၃၃။ **"အငှားချထားသူ"**နှင့် **"အငှားချထားခြင်းခံရသူ"**သည် စာချုပ်ပါစည်းကမ်းချက်တစ်ရပ်ရပ်ကို ဆောင်ရွက်ရန်(သို့မဟုတ်)လိုက်နာရန် ပျက်ကွက်ခြင်းကြောင့် **"အငှားချထားခြင်းခံရသူ"** (သို့မဟုတ်) **"အငှားချထားသူ"**က ယင်းကဲ့သို့ပျက်ကွက်မှုများကို ပြုပြင်ရန် (သို့မဟုတ်)လိုက်နာရန် **"အငှားချထားခြင်းခံရသူ"**(သို့မဟုတ်) **"အငှားချထားသူ"**သို့ အကြောင်းကြားစာပေးပို့ပြီးနောက် အကြောင်းကြားစာပါ ကာလအတွင်း လိုက်နာမှုမရှိပါက အထက်အပိုဒ်(၂၇)ပါ အငြင်းပွားမှုဖြေရှင်းသည့်နည်းလမ်းအတိုင်း ဆောင်ရွက်ရမည်။

မြေသို့ပြန်လည်ဝင်ရောက်ပိုင်ခွင့်

၃၄။ **"အငှားချထားခြင်းခံရသူ"**က ဤစာချုပ်ပါ စည်းကမ်းချက်များကို ဆောင်ရွက်ရန် (သို့မဟုတ်) လိုက်နာရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ ထိုသို့ပျက်ကွက်ကြောင်း **"အငှားချထားသူ"** က ချမှတ်သောနို့တစ်စာပါ ကာလများအတွင်း မဆောင်ရွက်မှု (သို့မဟုတ်)မလိုက်နာမှုကို ပြင်ဆင်ပေးရန် ပျက်ကွက်လျှင်သော်လည်းကောင်း၊ **"အငှားချထားသူ"**သည် အငှားစာချုပ်နှင့် သက်ဆိုင်အကျုံးဝင်သော ပစ္စည်းတစ်ရပ်လုံးပေါ်တွင် ငြိမ်းချမ်းအေးဆေးစွာ ပြန်လည်ဝင်ရောက်၍ လက်ရှိထားပိုင်ခွင့်ရှိရမည်။ ထိုအခါ အငှားစာချုပ်သည် ရပ်စဲ၍ ဆုံးခန်းတိုင်ရောက်ရမည်။ သို့ရာတွင် ဤသို့ စာချုပ်ရပ်စဲခြင်း၊ မြေသို့ပြန်လည်ဝင်ရောက်နိုင်သည့် အခွင့်အရေးများသည် ဤစာချုပ်ပါ **"အငှားချထားသူ"** က **"အငှားချထားခြင်းခံရသူ"** ထံမှ ရရှိမည့် အခွင့်အရေးများနှင့် တောင်းဆိုပိုင်ခွင့်များကို ထိခိုက်ခြင်းမရှိစေရ။

